**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၂/ခ-၀၁၂/၂၀၁၈( ၁၄၁ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၁၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

**အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Emerald Brewery Myanmar Limited မှ ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ Than Lwin Aye Yar Industrial Production & Construction Company Limited သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၆၃ ရှိ မြေဧရိယာ ၂.၇၉၉ ဧကတွင် ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၂ ခုနှစ်၊ ဇူလိုင်လ ၁၁ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ-၈၅၃/၂၀၁၂ ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီသည် နိုင်ငံခြားသွင်းကုန်ပစ္စည်းများ၏ အရည်အသွေး၊ ဈေးနှုန်းနှင့် အမည် နာမများကို ကောင်းမွန်စွာယှဉ်ပြိုင်ဆောင်ရွက်နိုင်ရန်နှင့် ပြည်ပရင်းနှီးမြှုပ်နှံမှုကို ဆောင်ရွက်နိုင်ရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၁ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁၀/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက် ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။

၃။ အထက်ပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရှိ Than Lwin Aye Yar Industrial Production & Construction Company Limited မှ ၅၁% နှင့် စင်ကာပူနိုင်ငံရှိ F & N Investment Pte. Ltd မှ ၄၉% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Emerald Brewery Myanmar Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူး မြို့နယ်၊ ရေတာလဘောင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-(၄၉၈-ကွင်းတလဘောင်အရှေ့ကွင်း)၊ ဦးပိုင် အမှတ်-(၂/၁+၂/၂+၂/၄+ N-၂) ရှိ မြေဧရိယာ ၃၂.၈၄ ဧက (၁၃၂,၈၉၉ စတုရန်းမီတာ) ကို ငှားရမ်း၍ ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ခွင့်ပြုမိန့်ထုတ်ပေးရန် တင်ပြလာပါသည်။

၄။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၃၂.၈၄ ဧက (၁၃၂,၈၉၉ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ US$ ၂၄၇,၄၀၀ ဖြစ်ပြီး (၁) နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၈၆ နှုန်း ဖြစ်ပါသည်။

၅။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၆၅.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **US$/သန်း** | **ကျပ်/သန်း** | **US$/သန်း စုစုပေါင်း** |
|---|---|---|---|
| ငွေသား | | ၄၄,၇၅၂.၅၀၀ | ၃၃.၁၅၀ |
| စက်ပစ္စည်း(ပြည်ပ) | ၂၅.၈၀၀ | | ၂၅.၈၀၀ |
| စက်ပစ္စည်းကိရိယာ(ပြည်ပ) | ၅.၀၈၄ | | ၅.၀၈၄ |
| ကုန်ကြမ်း | ၀.၉၆၆ | | ၀.၉၆၆ |
| **စုစုပေါင်း** | **၃၁.၈၅၀** | **၄၄,၇၅၂.၅၀၀** | **၆၅.၀၀၀** |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၄၅ ဦး နှင့် ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည်** | **ပြည်တွင်း(၁၀၀%) ရောင်းချမှု အရေအတွက်** | **ရောင်းဈေးနှုန်း (ကျပ်)** |
|---|---|---|
| Bottle Beer(620 ml) | ၅,၂၈၀,၀၀၀(Bottle) | ၁,၅၀၀ |
| Draught Beer(30 Lit) | ၄၃,၂၉၀(Draught) | ၇၂,၀၀၀ |
| Bottle /Can Beer(320 ml) | ၁,၅၁၅,၀၀၀(Bottle /Can) | ၇၉၀ |

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ ဘီယာထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းသုံးမြေ

အဖြစ် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ခွင့်ပြုကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ပြုလုပ်ရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ခ**

**စိစစ်တင်ပြချက်**

၁၀။ (က) အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်တွင် ဆောင်ရွက်မည့် ဖြစ်၍ ဇုန်(၂)တွင် ပါဝင်ပါသည်။

(ခ) Than Lwin Aye Yar Industrial Production & Construction Company Limited မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ရယူထားသော ခွင့်ပြုမိန့် အား ပြန်လည်အပ်နှံပြီး ဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲ မှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Emerald Brewery Myanmar Limited မှ ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

တိုင်းဒေသကြီးအစိုးရအဖွဲ့ ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၂(၃၇) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

သို့

ဦးအောင်သူ
အမှတ်(၁၇၂)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း
လှိုင်သာယာမြို့နယ်

အကြောင်းအရာ။ ဘီယာထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းသုံးမြေအဖြစ် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ခွင့်ပြုခြင်း

ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ရေတာလဘောင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၄၉၈)၊ တလဘောင်အရှေ့ကွင်း၊ ဦးပိုင်အမှတ်(၂/၁+၂/၂+၂/၄+အန်/၂)ရှိ လယ်မြေ(၃၂.၈၄)ဧကကို ငါးမွေးကန်အဖြစ် အသုံးပြုခွင့်ရရှိပြီး ၄င်းလယ်မြေ(၃၂.၈၄)ဧကအား ဘီယာထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းသုံးမြေအဖြစ် ပြောင်းလဲလုပ်ကိုင်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်စပ်လျဉ်း၍ (၂၂.၂.၂၀၁၈) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၈/၂၀၁၈)၏ ဆုံးဖြတ်ချက်အပိုဒ်(၇)အရ ဘီယာထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းသုံးမြေအဖြစ် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(ဟံထွန်း၊စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လက်ခံစာတွဲ
မျှောစာတွဲ

E/2018/TTS/Cabinet(word) .11

ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၁၀၁/ MIC (OSS)/ ၀၁(၁ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Emerald Brewery Myanmar Limited မှ ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၁၂/ ၂၀၁၇(၉၅၇)

၁။ မြန်မာနိုင်ငံမှ Than Lwin Aye Yar Industrial Production & Construction Company Limited (၅၁%) နှင့် စင်ကာပူနိုင်ငံမှ F and N Investment Pte. Ltd မှ (၄၉%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Emerald Brewery Myanmar Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရေတလဘောင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၄၉၈၊ ကွင်းအမည် (ကွင်းတလဘောင်အရှေ့ကွင်း)၊ ဦးပိုင်အမှတ်- ၂/၁+၂/၂+၂/၄+N-၂ မြေဧရိယာ ၃၂.၈၄ (၁၃၂,၈၉၉ စတုရန်းမီတာ) ကို ငှားရမ်း၍ ဘီယာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန်ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို မြေ (၁၃၂,၈၉၉ စတုရန်းမီတာ) ပေါ်တွင် ဘီယာထုတ်လုပ်မည့် စက်ရုံ၊ ကုန်ကြမ်းပစ္စည်းများသိုလှောင်မည့် ဂိုဒေါင်၊ ရေဆိုးသန့်စင်မည့်ကန်အပါအဝင် ဆက်စပ်အဆောက်အဦ (၁၈) ခုနှင့် စက်ရုံဝင်းအတွင်း လိုအပ်သည့် မြေဖို့ခြင်း၊ လမ်းခင်းခြင်း၊ ရေသိုလှောင်ကန် တည်ဆောက်ခြင်းစသည့် လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ဘီယာလီတာပေါင်း (၅၁) သိန်း မှ (၁၀) နှစ်အတွင်း သိန်း (၆၀၀) ကျော်ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Emerald Brewery Myanmar Limited မှ ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) ထုတ်လုပ်မှု လုပ်ငန်းစဉ်တွင် စက်များအသုံးပြုဆောင်ရွက်ရသဖြင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင် ထိခိုက်စေနိုင်ခြင်း၊

(ဃ) ဘီယာထုတ်လုပ်သည့် လုပ်ငန်းစဉ်တွင်ထွက်ရှိလာမည့် အခိုးအငွေ့များတွင်ပါဝင်သည့် အဆုတ်နှင့်အသက်ရှူ လမ်းကြောင်းထိခိုက်စေနိုင်သော အလွန်သေးငယ်သည့် အမှုန်အမွှားများ (PM10) နှင့်ကာဗွန်မိုနောက်ဆိုဒ်($CO_2$) တို့ကြောင့် လေထု ညစ်ညမ်းခြင်း၊

(င) စိမ်ရည်ကိုအရစ်ကျပေါင်းခံ သန့်စင်ရာမှလည်းကောင်း၊ ရရှိသောအရက်ကိုပုလင်းထဲသို့ ထည့်သွင်းရန် ဆေးကြော သန့်စင်ရာမှလည်းကောင်း ထွက်ရှိသည့် စွန့်ပစ်ရည်နှင့် စိမ်ရည်ကန်မှ အကြွင်းအကျန် အနည်အဖတ်များကို ပြုပြင် သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထုညစ်ညမ်းခြင်း၊

(စ) ယင်းစွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်အပူချိန် မြင့်တက်စေပြီး ကစော်ခါတ်ပေါက်၍အနံ့ဆိုးများ ထွက်ရှိခြင်းကြောင့် စက်ရုံအနီးပတ်ဝန်းကျင်ရှိ လေထုညစ်ညမ်းခြင်း၊ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Emerald Brewery Myanmar Limited မှ ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက် ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအ တိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး

မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(signature) ၅/၁/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ